မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# မြန်မာ စီ.ပီ. လိုက်(ဗ်)စတော့(ခ်) ကုမ္ပဏီလီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖❖❖❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

AND

# Articles Of Association

OF

# MYANMAR C.P. LIVESTOCK COMPANY LIMITED

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ စီ. ပီ. လိုက်(ဖ်)စတော့(ခ်) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖

၁။ ကုမ္ပဏီ၏အမည်သည် မြန်မာ စီ. ပီ. လိုက်(ဖ်)စတော့(ခ်) ကုမ္ပဏီလီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်အလုပ်တိုက်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းတည်ရှိရမည်။

၃။ ကုမ္ပဏီတည်ထောင်ရခြင်း၏ရည်ရွယ်ချက်များမှာတစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၈,၅၇၆,၉၅၂,၀၀၀/– (ကျပ် သန်းရှစ်ထောင်ငါးရာခုနစ်ဆယ့်ခြောက်နှင့် ကိုးသိန်းငါးသောင်း နှစ်ထောင်တိတိ) ဖြစ်၍ ငွေကျပ် ၁,၀၀၀/–(ကျပ်တစ်ထောင် တိတိ) တန် အစုရှယ်ယာပေါင်း (၈,၅၇၆,၉၅၂) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့်လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၂-၉၆ ရက်နေ့စွဲပါ ခွင့်ပြုမိန့်အမှတ် ၂၃၈/၉၆ အရ လှည်းကူး မြို့နယ်၊ ငါးဆူတောင် နှင့် ဓနိလာဒိုမြို့နယ်၊ မျဉ်းမပင် တို့တွင် တိရိစ္ဆာန်အစာစက်ရုံ တည်ဆောက်ခြင်း၊ မျိုးကြက်မွေးမြူခြင်း၊ ကြက်ဥဖေါက်စက်လုပ်ငန်း နှင့် မွေးဖက်မွေးမြူခြင်းလုပ်ငန်းများ လုပ်ကိုင်ရန်။

(၂) ကြက်၊ ဘဲ၊ ငန်း စသည့် အသားစားမွေးမြူရေးတိရိစ္ဆာန်များအတွက်အစာများထုတ်လုပ်ခြင်း နှင့် ရောင်းဝယ် ဖြန့်ဖြူးခြင်း၊ မွေးမြူခြင်း နှင့် အခြားဆက်စပ်နေသောလုပ်ငန်းများဖြစ်သည့် တိရိစ္ဆာန်အစားအစာစက်ရုံ၊ မွေးမြူရေးခြံ၊ ကြက်သားပေါက်ခြင်းလုပ်ငန်း၊ တဆင့်မွေးမြူရေးခြံလုပ်ငန်းများဆောင်ရွက်ရန် နှင့် ပြည်တွင်း ပြည်ပရောင်းချရန်။

(၃) တိရိစ္ဆာန်အစားအစာ သိုလှောင်ထားနိုင်သည့်နေရာနှင့် တိရိစ္ဆာန်အစားအစာများထုတ်လုပ်ရန်အတွက် ကောက်ပဲ သီးနှံများအခြောက်ခံထားသည့်လုပ်ငန်း နှင့် ပတ်သက်သည့် လုပ်ငန်းများဆောင်ရွက်ရန်။

(၄) တိရိစ္ဆာန်မွေးမြူခြင်း နှင့် တစ်ဆက်တည်းဖြစ်နေသော အထောက်အကူပြုထွက်ကုန် လုပ်ငန်းများနှင့် အခြား ဆက်စပ်နေသည့်လုပ်ငန်းများဆောင်ရွက်ရန်။

(၅) တိုက်ဆိုင်နှိုင်းယှဉ်လေ့လာနိုင်သောအာမခံများဖြင့် ကြွေးမြီများအတွက် အာမခံခြင်း နှင့် ဘီလ်များ သို့မဟုတ် အခြားညှိနှိုင်းခြင်းပြုလုပ်နိုင်သောအထောက်အထားများ လက်ခံခြင်း၊ ထုတ်ပေးခြင်း၊ လွှဲပြောင်းခြင်း နှင့် တာဝန်ခံပေးခြင်းတို့ကိုဆောင်ရွက်ရန်။

(၆) ပြည်တွင်းနှင့်ပြည်ပနိုင်ငံများတွင် ရုံးခွဲများဖွင့်လှစ်ခြင်း သို့မဟုတ် ကိုယ်စားလှယ်များခန့်အပ်ခြင်းတို့ကို လုပ်ကိုင် ဆောင်ရွက်ရန်။

(၇) အထက်ဖော်ပြပါလုပ်ငန်းများနှင့် ပတ်သက်သော ကုန်တင်သယ်ယူပို့ဆောင်ပေးခြင်းလုပ်ငန်း အပါအဝင် သယ်ယူပို့ဆောင်ရေးလုပ်ငန်းများ နှင့် အခြားဆက်စပ်နေသော ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရန်။

(၈) အထက်ဖော်ပြပါလုပ်ငန်းများတွင် လိုအပ်သည့်စက်ကရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြား သောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊ တစ်ပိုင်းတစ ကုန်ချော များကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်။

(၉) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟုယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက်တည်မြဲနေသော တရားဥပဒေများ၊ အမိန့် ကြော်ငြာစာများ၊ အမိန့်များကခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင် ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲ နေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟုခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နေရပ် နှင့် အကြောင်းအရာ စုံလင်စွာပါသော ငါးတို့တွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှာသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ဖော်ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည် ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်ကြသူများ၏ အမည်၊ နေရပ်လိပ်စာ နှင့် အကြောင်းအရာ | နိုင်ငံသား၊ အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁။ | **Bangkok Livestock Processing Co.,Ltd** ကို ကိုယ်စားပြုသူ- | Incorporated in Thailand | ၈၃၉၉ | |
| ၁-၁ | Mr. Prasert Poongkumarn<br>528/2-11, Sukhumvit 22, Klongton,<br>Klongtoey, Bangkok, Thailand.<br>( Director ) | Thai<br>Passport No-<br>W 297445 | | |
| ၂။ | Mr. Adirek Sripratak<br>3133/27 Sukhumvit 101/2, Bang-nga,<br>Prakhanong, Bangkok, Thailand.<br>( Nominee Director ) | Thai<br>Passport No-<br>C 172327 | ၁ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉[illegible]ခုနှစ်၊ ဇန်နဝါရီ လ၊ [illegible] ရက်နေ့။
အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင်လက်မှတ်ရေးထိုးကြပါသည်။

ဦးသန်းစိုးလင်း ( B.Com (Q), C.P.A )
လက်မှတ်ရပြည်သူ့စာရင်းကိုင်၊ စာရင်းစစ်
အမှတ် ၁၅၃၊ ပထမထပ် (ယာ)၊ ၄၇ လမ်း၊
ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ ( ဖုန်း-၂၉၂၃၈၃ )

**THAN SOE LIN (B. Com (Q), C.P.A.)**
**Certified Public Accountant**

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ စီ. ပီ. လိုက်(ဖ်)စတော့(ခ်) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖

ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမ ဇယားပုံစံ 'က' ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့်မသက်ဆိုင်သော ကိုယ်ပိုင်ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ်အထိသာကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခု အတွက်ငွေထည့်ဝင်ရန်အများပြည်သူတို့အားကမ်းလှမ်းခြင်း မပြုလုပ်ရန်တားမြစ်ထားသည်။

### မတည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၈,၅၇၆,၉၅၂,၀၀၀/-(ကျပ် သန်းရှစ်ထောင်ငါးရာ ခုနှစ်ဆယ့်ခြောက်နှင့် ကိုးသိန်းငါးသောင်း နှစ်ထောင်တိတိ) ဖြစ်၍ ငွေကျပ် ၁,၀၀၀/- (ကျပ် တစ်ထောင် တိတိ) တန် အစုရှယ်ယာပေါင်း (၈,၅၇၆,၉၅၂) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌တိုးမြှင့် နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

# မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

## မြန်မာ စီ.ပီ.လိုက်(ဖ်)စတော့(ခ်) ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖❖❖❖

### ပဏာမ

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့်လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများအက် ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ "က" ပါစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့်သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပုဒ်မ၁၇(၂) တွင်ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့်သက်ဆိုင်စေရမည်။

### အများနှင့်မသက်ဆိုင်သောကိုယ်ပိုင်ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသောဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူ တို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်သည်။

### မတည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၆,၉၅၂,၀၀၀/- ( ကျပ်ငါးဆယ်ခြောက်သန်း ကိုးသိန်းငါးသောင်း နှစ်ထောင် တိတိ ) ဖြစ်၍ ငွေကျပ် ၁,၀၀၀/- ( ကျပ်တစ်ထောင်တိတိ ) တန်အစုရှယ်ယာပေါင်း (၅၆၉၅၂) ခွဲထားသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲ ဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက်အစုရှယ်ယာများသည် ဒါရိုက်တာများ၏ကြီးကြပ်ကွပ်ကဲမှုအောက်တွင်ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သောပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေတစ်ရပ်ရပ်ဖြင့် အစုရှယ်ယာများကိုခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကိုဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့်ပြန်လည် အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံ အထောက်အထားတစ်ခုတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်၊ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများကအသိအမှတ်ပြုပေးရမည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့်အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့်ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်နေရာနှင့်အချိန်တွင် ပေးသွင်းစေရန်တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများကသတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ်အစည်းအဝေးက တစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏အရေအတွက် သည် ( ၂ ) ဦးထက် မနည်း ( ၂၀ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) Mr. Prasert Poongkumarn (Represented for Bangkok Livestock Processing Co.,Ltd )
(၂) Mr. Adirek Sripratak
(၃) Mr. Anek Boonnoon

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သောသတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများအားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သောအရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာ အနည်းဆုံး ( - ) စု ကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၈၅ ပါပြဋ္ဌာန်းချက်များကို လိုက်နာ ရန်တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများလွှဲပြောင်းရန်တင်ပြချက်ကို မည်သည့်အကြောင်းပြချက်မျှမပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ ၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံးဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆိုပေါ်ပေါက်ပါက ဒါရိုက်တာအဖွဲ့ဥက္ကဋ္ဌ၏ အဆုံးအဖြတ်သည် အတည်ဖြစ်စေရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းဝေးကို မည်သည့်ဒါရိုက်တာက မဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးကလက်မှတ်ရေးထိုးထားသောရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့်ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၅၁ တွင်ပေးအပ်ထားသော အထွေထွေအာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါအာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများသတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များကို သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကိုပြုလုပ်ရန်။

(၂) သင့်တော်သောစည်းကမ်းချက်များဖြင့် ငွေကြေးများကိုချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကိုပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့်ဤကုမ္ပဏီ၏ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသောရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီကရယူသောအခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့်ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသောအာမခံစာချုပ်များကိုထုတ်ပေးရန်၊ ထို့အပြင် အဆိုပါအစုရှယ်ယာများထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့်သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့်အဆိုပါငွေချေးစာချုပ်များဒီဘင်ချာများသို့မဟုတ် ဤကုမ္ပဏီ၏အခြားသောအာမခံစာချုပ်များဖြင့်ထုတ်ဝေပေးရာ၌ခေါ်ဆိုခြင်းမပြုရသေးသောရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကိုအပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့်ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင်ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းရပ်များအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်းဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊လစာငွေများ၊အခြားငွေကြေးများကိုသတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများတောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင်အဆိုပါကိစ္စရပ်များအတွက်ကုမ္ပဏီ၏မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်ဒေသကိုဖြစ်စေဒါရိုက်တာများ၏ကိုယ်စားဆောင်ရွက်နိုင်ရေးအတွက်တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့်တွဲဖက်၍ မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေမန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာအဖြစ်ခန့်အပ်ရန်။

(၇) မည်သည့်အစုရှင်ထံမှမဆို ၎င်းတို့၏အစုရှယ်ယာများ အားလုံးကိုဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့်လက်ခံရန်။

(၈) ဤကုမ္ပဏီကပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ်အပ်နှံခြင်းများနှင့်ပတ်သက်၍ လိုအပ်သောစာချုပ်စာတမ်းများကို ချုပ်ဆိုပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သောတရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင်ဤကုမ္ပဏီကရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန်အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူကျေအေးခြင်းများပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီကပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသောငွေတောင်းခံခြင်းများကို ဖြန့်ဖြေရေးခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန့်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်းလိုက်နာ ဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များ၊ ကုမ္ပဏီသို့ပေးရန်ရှိသောငွေကြေးများအတွက် ပြေစာများပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့်အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီမဆပ်နိုင်ခြင်း ကိစ္စများနှင့်ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလောအသုံးပြုရန်မလိုသေးသောကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာမြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏အကျိုးအတွက် ငွေကြေးစိုက်ထုတ်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏(လက်ရှိနှင့်နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန်၊ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့်အာဏာနှင့် အခြားသောသဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသောမည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆိုအတိအကျဆောင်ရွက်ခဲ့သည့် လုပ်ငန်းသို့မဟုတ်ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာသတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟုယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့်ကန်ထရိုက်စာချုပ်ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့်ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက်စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း၊ ၎င်းတို့နှင့်စပ်လျဉ်းသော ကိစ္စရပ်များကိုလည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများကသင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ဤကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ်အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့်အချိန်နှင့်နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင်အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့်အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌)ကျင်းပရမည်။ သင်းလုံးကျွတ်အစည်းအဝေးစတင်၍လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန်သတ်မှတ်သည့်အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့် သင်းလုံးကျွတ်အစည်းအဝေးတွင်မဆိုလုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်းသတ်မှတ်ပြဋ္ဌာန်းထားခြင်းမရှိလျှင် ထုတ်ဝေထားသည့်မတည်ရင်းနှီးငွေအစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့်အစုရှင်များကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေဖြစ်သည်။ အကယ်၍ကုမ္ပဏီတွင် အစုရှင်အရေအတွက်နှစ်ဦးတည်းသာရှိသည့်ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်သာလျှင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့်အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးမည့်အမြတ်ဝေစုကိုကြေညာရမည်။ သို့ရာတွင်အမြတ်ဝေစုသည်ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက်မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကိုခွဲဝေမပေးရ။

## ရှုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ်ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မီသူများအား ရုံးဝန်ထမ်းအဖြစ်ခန့်အပ်မည်ဖြစ်သည်၊ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့်အခကြေးငွေများကို ဒါရိုက်တာအဖွဲ့ကသတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးကအတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ထိရောက်စွာ လုပ်ငန်းလည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်းဒါရိုက်တာအား တာဝန်ခံ၍ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့်ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိမ်းသိမ်း ဆောင်ရွက်ရမည်။

(က) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများဖြစ်ပေါ်ခြင်းနှင့်စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(ခ) ကုမ္ပဏီ၏ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့်ဝယ်ယူခြ[illegible]များ။

(ဂ) ကုမ္ပဏီ၏ ရရန်ပိုင်ခွင့်၊ ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန်ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်းစည်းကမ်းများနှင့် လိုက်လျောညီထွေဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆိုနို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း၊ သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတဆင့်လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံးဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှမသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထို ဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး၊ သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှ မိမိ၏တာဝန်ဝတ္တရားများကိုဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန်ဝတ္တရားများနှင့်စပ်လျဉ်း၍ဖြစ်စေ၊ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏အထွေထွေအစည်းအဝေးဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအားဖျက်သိမ်းနိုင်သည်။ ယင်းသို့ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့်စည်းကမ်းချက်များအတိုင်း လိုက်နာပြုလုပ်ရမည်။

အောက်တွင် အမည်၊ နေရပ် နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှာသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျှောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ဖော်ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည် ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်ကြသူများ၏ အမည်၊ နေရပ်လိပ်စာ နှင့် အကြောင်းအရာ | နိုင်ငံသား၊ အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁။ | **Bangkok Livestock Processing Co.,Ltd** ကို ကိုယ်စားပြုသူ- | Incorporated in Thailand | ၈၃၉၉ | |
| ၁-၁ | Mr. Prasert Poongkumarn 528/2-11, Sukhumvit 22, Klongton, Klongtoey, Bangkok, Thailand. ( Director ) | Thai Passport No- W 297445 | | (signature) |
| ၂။ | Mr. Adirek Sripratak 3133/27 Sukhumvit 101/2, Bang-nga, Prakhanong, Bangkok, Thailand. ( Nominee Director ) | Thai Passport No- C 172327 | ၁ | (signature) |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၅ခုနှစ်၊ [illegible] လ၊ ၁၃ ရက်နေ့။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင်လက်မှတ်ရေးထိုးကြပါသည်။

ဦးသန်းစိုးလင်း ( B.Com (Q), C.P.A )
လက်မှတ်ရပြည်သူ့စာရင်းကိုင်၊ စာရင်းစစ်
အမှတ် ၁၅၃၊ ပထမထပ် (ယာ)၊ ၄၅ လမ်း။
ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ ( ဖုန်း-၂၉၂၃၈၃ )

THAN SOE LIN (B. Com (Q), C.P.A.
Certified Public Accountant

ပုံစံ (၆)

# အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

သို့

ဉက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊
ရက်စွဲ ၊၂၀ ခုနှစ်၊ လ ရက်

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် လျှောက်ထားခြင်း

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၄ အရ အခွန်ကင်းလွတ် ခွင့် သို့မဟုတ် သက်သာခွင့်များ ခံစားခွင့်ရရှိရေးအတွက် အောက်ဖော်ပြပါအချက်များအား ဖြည့်စွက်၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏ -----------------------------------------
(က) အမည် -----------------------------------------
(ခ) ကုမ္ပဏီအမည် -----------------------------------------
(ဂ) လုပ်ငန်းအမျိုးအစား -----------------------------------------
(ဃ) ခွင့်ပြုမိန့်အမှတ် သို့မဟုတ် အတည်ပြုမိန့်အမှတ် (လျှောက်ထားဆဲဖြစ်ပါက လျှောက်ထားဆဲဖြစ်ကြောင်းဖော်ပြရန်)

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင်လျှောက်ထားခြင်း မဟုတ်ပါက လျှောက်ထားသူ၏
(က) ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည် -----------------------------------------
(ခ) နိုင်ငံသားစိစစ်ရေးကတ်/ နိုင်ငံကူးလက်မှတ် အမှတ် --------------------------------

၃။ တည်ဆောက်မှုကာလ/ ပြင်ဆင်မှု ကာလ --------------------------------------
၄။ စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ --------------------------------------
၅။ အောက်ပါအခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကိုခံစားခွင့်ပြုနိုင်ပါရန် လျှောက်ထား အပ်ပါသည်-
(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၅(က)ပါ ဝင်ငွေခွန်ကင်းလွတ်ခွင့်
(-) ----------------------------------------------------------------------
(-) ----------------------------------------------------------------------
(-) ----------------------------------------------------------------------

မှတ်ချက်။ မိမိလျှောက်ထားလိုသည့် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ဖော်ပြရန်

ပုံစံ - ၆

အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ ၊CP/ MIC / 2017 ( )
ရက်စွဲ ၊ ၊

အကြောင်းအရာ ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ဥပဒေအရ အခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့် လျှောက်ထားခြင်း။

ကျွန်တော် / ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၄ အရ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်များ ခံစားရရှိရေး အောက်ဖော်ပြပါအချက်များအားဖြည့်စွက်၍လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် - Mr.Phongtron Kavanna
(ခ) ကုမ္ပဏီအမည် - Myanmar C.P Livestock Co.,Ltd

(ဂ) လုပ်ငန်းအမျိုးအစား - ဥစားကြက် မွေးမြူခြင်း။
(ဃ) ခွင့်ပြုမိန့် သို့မဟုတ် အတည်ပြု မိန့်အမှတ်(လျှောက်ထားဆဲဖြစ်ပါက လျှောက်ထားဆဲဖြစ်ကြောင်းဖော်ပြရန် - အတည်ပြု မိန့်အားလျှောက်ထားဆဲဖြစ်ပါသည်။

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်း မဟုတ်ပါက လျှောက်ထားသူ၏

(က) ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည် -
(ခ) နိုင်ငံသားစိစစ်ရေးကဒ် / နိုင်ငံကူးလက်မှတ် အမှတ် -
၃။ တည်ဆောက်မှုကာလ ပြင်ဆင်မှုကာလ - ၆လ
၄။ စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ -
၅။ အောက်ပါ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကိုခံစားခွင့်ပြုနိုင်ပါရန် လျှောက်ထားအပ်ပါသည်-

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၅ (က)ပါ ဝင်ငွေခွန်ကင်းလွတ်ခွင့်

- ကုန်ထုတ်လုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှု လုပ်ငန်း တစ်ခုခု စီးပွားဖြစ်စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း ငါးနှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ၊ ထို့အပြင် နိုင်ငံတော်အတွက် အကျိုးကျေးဇူးရှိလျှင် ရင်းနှီးမြှုပ်နှံသည့် အောင်မြင်မှုပေါ် မူတည်၍ သင့်လျော်သောကာလ အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ။

- လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

- ဝင်ငွေခွန်စည်းကြပ်ရန် ကိစ္စအလို့ငှာ စက်ပစ္စည်း ၊ စက်ကိရိယာ ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ထဲမှ နုတ်ပယ်ခွင့်။

- ကုန်ထုတ်လုပ်ငန်းတစ်ခုခုက ထုတ်လုပ်သည့်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေအပေါ်တွင် ၅၀% အထိ ဝင်ငွေခွန်သက်သာခွင့်။

- နိုင်ငံခြားသားများ၏ ဝင်ငွေအပေါ်တွင် ပြည်တွင်းနေ နိုင်ငံသားများပေးဆောင်သည့် ဝင်ငွေခွန်နှုန်းထားများအတိုင်း ဝင်ငွေခွန်ပေးဆောင်ခွင့်။

- နိုင်ငံတော်အတွင်း အမှန်တကယ် လိုအပ်၍ဆောင်ရွက်သည့် လုပ်ငန်းဆိုင်ရာ သုတေသနနှင့်ဖွံ့ဖြိုးရေးလုပ်ငန်းများအတွက် ကုန်ကျစရိတ်ကို အခွန်စည်းကြပ်ထိုက်သောဝင်ငွေမှ နုတ်ပယ်ခွင့်။

- လုပ်ငန်း တစ်ခုချင်းအလိုက် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့အရှုံး ပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်။

-

မှတ်ချက်။ ။မိမိလျှောက်ထားလိုသည့် အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုဖော်ပြရန်

၆။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၅ (က) ဦးပိုင်အမှတ် - ၁၂၃ ၊ ကွင်းအမှတ် - (၁၃၀၉) ၊
ခရမ်းစပ်ကုန်းကျေးရွာအုပ်စု၊တပ်ကုန်းမြို့၊
ဥတ္တရခရိုင်၊နေပြည်တော်။

ဝင်ငွေခွန်ကင်းလွတ်ခွင့်လျှောက်ထားမည်ဆိုပါက နည်း ဥပဒေ၈၃နှင့် အညီလုပ်ငန်းဆောင်ရွက် နေသည့်ဇုန်နေရာ သို့မဟုတ် နည်း ဥပဒေ ၈၆ နှင့်အညီတွက်ချက်ထားသော ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းတန်ဖိုး ၆၅ရာခိုင်နှုန်း အထက်အား ရင်းနှီးမြှုပ်နှံ ထားသည့်သို့မဟုတ် လုပ်ငန်း ဆောင်ရွက်နေသည့် ဇုန်နေရာကိုဖော်ပြပေးရန်။ ဇုန် - ၂ ( ပုဒ်မ - ၇၅ (က) အရ)

၇။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၇ (က)နှင့် (ဃ) ကိုလျှောက်ထားမည်ဆိုပါကနည်း ဥပဒေ ၈၄ ပါအချက်အလက်များကို ဇယား(၁)တွင်ဖြည့်စွက်ရန်။

၈။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၇ (ခ)အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်လျှောက်ထားမည်ဆိုပါက ဇယား (၂)နှင့်အောက်ပါ အချက်အလက်များကိုဖော်ပြပေးအပ်ရန်-

(က) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းမှ ရရှိမည့်တစ်နှစ် စာမျှော်မှန်းဝင်ငွေ - ကျပ်၆၆၄.၇၈သန်း(ပထမနှစ်)

(ခ) ပြန်လည် ရင်းနှီးမြှုပ်နှံမည့် ပမာဏကို ဖော်ပြပေးရန် - –

၉။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၈ (က)အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်လျှောက်ထားမည်ဆိုပါက နည်းဥပဒေ ၉၉နှင့်အညီ တစ်ဖက်ပါ အချက်အလက်များကိုဖော်ပြပေးအပ်ရန်-

(က) မည်သည့်ဘဏ္ဍာနှစ်တွင်ရရှိခဲ့သည့်အမြတ်ငွေဖြစ်ကြောင်းဖော်ပြရန်။ -

(ခ) မည်သည့်ဘဏ္ဍာနှစ်အတွက် ပြန်လည်ရင်းနှီးမြှုပ်နှံလိုကြောင်းဖော်ပြရန်။ -

(ဂ) ပြန်လည်ရင်းနှီးမြှုပ်နှံမည့် ပမာဏကို ဖော်ပြရန်။ -

၁၀။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၈ (ခ)အရ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်လျှောက်ထားမည်ဆိုပါက အောက်ပါ အချက်အလက်များကိုဖော်ပြပေးအပ်ရန်-

(က) နိုင်ငံတော်၏ သက်ဆိုင်ရာ ဥပဒေ များအရ ခွင့်ပြုထားသည့်ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းထားနှင့် ၎င်းနှုန်းထား၏ ၁.၅ဆနှင့် တူညီသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းထားတို့ကို ယှဉ်တွဲတွက်ချက်ဖော်ပြထား သည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းထားတွက်ချက်မှုကို ပူးတွဲတင်ပြရန်။

(ခ) ရင်းနှီးမြှုပ်နှံသူသည် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းထားကို တွက်ချက်ခံစားခွင့်အတွက် အခြားသက်ဆိုင်ရာ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံသီးခြားလျှောက်ထားခြင်း သို့မဟုတ် ရရှိထားခြင်းရှိ မရှိ။

၁၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၈ (ဂ)အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်လျှောက် ထားမည်ဆိုပါက ဘဏ္ဍာနှစ်အတွက် သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းများ၏ အမှန်တကယ်ကုန်ကျ စရိတ်ကို စာရင်းပြုစု၍ပူးတွဲတင်ပြရန်။

| | |
|---|---|
| လျှောက်ထားသူလက်မှတ် | (signature) PHONGTRON KAVANNA |
| အမည် | DIRECTOR |
| ဌာန ကုမ္ပဏီတံဆိပ် | Myanmar C.P Livestock Company Limited |

Myanmar C.P. Livestock Company Limited

MCPL

Form (6)

**Tax Incentive Application**

To

Chairman
Myanmar Investment Commission

Ref. : : CP / MIC / 2017 ( )
Dated : :

Subject: : **Application for Tax Incentive**

I do hereby apply with the following particulars for the tax incentive under section 74 of Myanmar Investment Law:

1. Applicant :

| | | |
|---|---|---|
| (a) Name of Investor | - | Mr.Phongtron Kavanna |
| (b) Name of Company | - | Myanmar C.P Livestock Company Limited |
| (c) Type of Business | - | Layer Farm |
| (d) Myanmar Investment Commission Permit or Endorsement No. (If a permit or endorsement is still processing, please describe the information.) | - | Still Application to MIC |

2. If investor doesn't submit by himself/ herself , the applicant's;

| | | |
|---|---|---|
| (a) Name of contact Person | - | Nil |
| (b) National Registration Card No/ Passport No | - | Nil |

| | | | |
|---|---|---|---|
| 3. | Construction period or Preparatory period | - | 6 Month |
| 4. | Commencement date for commercial Operation | - | Nil |

5. Applied for the following tax incentive :

(a) Exemption or Relief under section 75(a)

- Income tax exemption for a period of five consecutive years including the year of on commercial scale to any business for the production of goods or services, moreover, in case where it is beneficial to the Union, income tax exemption or relief for suitable period depending upon the success of the business in which investment is made;

- Exemption or reliefs from income tax on profits of the business if they are maintained for reinvestment in a reserve fund and re- investment therein within 1 year after the reserve is made;

- Right to deduct depreciation from the profit ,after computing as the rate of deducting depreciation stipulated by the Union, in respect of machinery ,equipment ,building or other capital assets used in the business for the purpose of income tax assessment;

- If the goods produced by any manufacturing business are exported, relief from income tax up to 50% on the profit accrued from the said export;

- Right to pay income tax on the income of foreigners at the rates applicable to the citizens residing within the Union;

- Right to deduct expenses from the assessable income, such expenses incurred in respect of research and development relating to the business which are actually required and are carried out within the Union;

- Right to carry forward and set-off the loss up to 3 consecutive year the loss is actually sustained within 2 years following the enjoyment of exemption or relief from income tax;

**Note:** The application must specify precise tax incentives applied for .

6. If the investor applies for tax incentive under section 75(a), Please state the Zone in accordance rule 83 or the Zone in which more than 65% of the value of the investment is invested or carried out in accordance with rule 96.

- **Propose area**
  Holding No-123,Kwin No-1309,
  Khayansat Kone, Tat Kone Township,
  Uttara District, Nay Pyi Taw.

- Zone -2 (under section 75(a) )

7. If the investor apply for tax incentive under section 77(a) and (d) , please fill the information in schedule (1) .

8. If the investor apply for tax incentive under section 77(b) , Please state the following information and fill in schedule (2) :

| | | |
|---|---|---|
| (a) an expected amount as per year to be earned from the investment | - | Kyats 664.78 Million (First Year) |
| (b) Foreign Currency from export as per year | - | – |

9. If the investor apply for tax incentive under section 78(a) , please state the following information in accordance with rule 99:

| | | |
|---|---|---|
| (a) Please describe, which financial year the profits reinvested are earning by the investor. | - | Nil |
| (b) Please describe which financial year The profits are reinvested by the Investor. | - | Nil |
| (c) Please describe the amount of reinvestment. | - | Nil |

10. If the investor apply for tax incentive under section 78(b) , please describe the following information:

(a) Provide the depreciation schedule of assets for which the depreciation rate is to be adjusted, showing both the depreciation at the standard rate and at a rate of 1.5 times the depreciation rate permitted under the relevant laws of the Union.

(b) Has the investor separately applied for or obtained an adjustment to the depreciation rate from the relevant authority.

11. If the investor apply for tax incentive under section 78(c) , provide an itemized list of actual research and development expenses for the current financial year.

Myanmar C.P. Livestock Company Limited. MCPL

| | |
|---|---|
| Signature | [signature] |
| Name of Investor | PHONGTRON KAVANNA |
| Designation | DIRECTOR |
| Department/Company | Myanmar C.P Livestock Company Limited |
| (Seal/Stamp) | |

**Investment Plan Detail List** Ks. / 1 Houses

| No | Particular | Amount (Kyat) | Amount (US$) |
|---|---|---|---|
| | **Building & Building improvements** | | |
| 1. | Housing Charges | 112,252,000 | 83,150 |
| 2. | Corridor | 33,835,200 | 25,063 |
| 3. | Floor | 63,840,000 | 47,289 |
| 4. | Office & Domitory | 3,800,000 | 2,815 |
| 5. | Feed Hoper House | 3,800,000 | 2,815 |
| 6. | Changin Room + Dipping Pond + Fumigation + Gate (Entrance) | 5,700,000 | 4,222 |
| 7. | Fencing | 2,660,000 | 1,970 |
| | | **225,887,200** | **167,324** |
| | **Equipment** | | |
| 1 | Equipments | 248,018,400 | 183,717 |
| 2 | Farm's Accessories | 760,000 | 563 |
| | | **248,778,400** | **184,280** |
| | **Machinery & Equipment** | | |
| 1 | Egg Godwon & Grading Machine | 79,800,000 | 59,111 |
| | | **79,800,000** | **59,111** |
| | **Vehicles** | | |
| 1 | Tractor | 3,040,000 | 2,252 |
| | | **3,040,000** | **2,252** |
| 1 | **Utilities System** | | |
| 2 | Water System | 7,600,000 | 5,630 |
| 3 | Electric System (Transformer) | 9,500,000 | 7,037 |
| 4 | Electric (Main & Inside Farm) | 6,840,000 | 5,067 |
| 5 | Generator (32,000,000 Ks./set x 2 sets) & Generator House | 24,700,000 | 18,296 |
| | | **48,640,000** | **36,030** |
| | **Total Amount** | **606,145,600** | **448,997** |

Myanmar CP Livestock Co., Ltd
Business Unit: Farm Business
Project I Layer Village Fund Project_(NayPyitaw) (19,000 Birds/H x 1 Houses)

| Description | Unit | Year-1 | Year-2 | Year-3 | Year-4 | Year-5 | Year-6 | Year-7 | Year-8 | Year-9 | Year-10 |
|---|---|---|---|---|---|---|---|---|---|---|---|
| Estimated Sale volume for the year (ကြက်ဥ) | MMK | 603,750,000 | 603,750,000 | 603,750,000 | 603,750,000 | 603,750,000 | 603,750,000 | 603,750,000 | 603,750,000 | 603,750,000 | 603,750,000 |
| Estimated Sale volume for the year_Post layer( ကြက်သား) | MMK | 61,047,360 | - | 61,047,360 | 61,047,360 | 61,047,360 | - | 61,047,360 | 61,047,360 | 61,047,360 | 61,047,360 |
| Sale Revenue | MMK | 664,797,360 | 603,750,000 | 664,797,360 | 664,797,360 | 664,797,360 | 603,750,000 | 664,797,360 | 664,797,360 | 664,797,360 | 664,797,360 |
| Sale Volume (ကြက်ဥ) | Egg | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 |
| Sale Volume '000 ( ကြက်သား) | Kg | 36,998.40 | - | 36,998.40 | 36,998.40 | 36,998.40 | - | 36,998.40 | 36,998.40 | 36,998.40 | 36,998.40 |
| Selling Price | Ks/Egg | 105.00 | 105.00 | 105.00 | 105.00 | 105.00 | 105.00 | 105.00 | 105.00 | 105.00 | 105.00 |
| Selling Price | Ks/Kg | 1,650 | 1,650 | 1,650 | 1,650 | 1,650 | 1,650 | 1,650 | 1,650 | 1,650 | 1,650 |
| Share Portions | % | 0% | | 0% | 0% | 0% | | 0% | 0% | 0% | 0% |
| Transfer to other business | Birds | - | - | - | - | - | - | - | - | - | - |
| Transfer to other business | Kg | - | - | - | - | - | - | - | - | - | - |
| Transfer price | Ks/Kg | - | - | - | - | - | - | - | - | - | - |
| Share Portions | % | | | | | | | | | | |

Selling and Admin Cost Assumption

| Description | Unit | Year-1 | Year-2 | Year-3 | Year-4 | Year-5 | Year-6 | Year-7 | Year-8 | Year-9 | Year-10 |
|---|---|---|---|---|---|---|---|---|---|---|---|
| Sale Volume | Kg | | | | | | | | | | |
| Selling and Admin Cost Assumption | Amount | 36,563,855 | 33,206,250 | 36,563,855 | 36,563,855 | 36,563,855 | 33,206,250 | 36,563,855 | 36,563,855 | 36,563,855 | 36,563,855 |
| Selling and Admin Cost Assumption | Ks/Egg | 6.36 | 5.78 | 6.36 | 6.36 | 6.36 | 5.78 | 6.36 | 6.36 | 6.36 | 6.36 |
| Selling Expense | MMK | 16,619,934 | 15,093,750 | 16,619,934 | 16,619,934 | 16,619,934 | 15,093,750 | 16,619,934 | 16,619,934 | 16,619,934 | 16,619,934 |
| Admin Expense | MMk | 13,295,947 | 12,075,000 | 13,295,947 | 13,295,947 | 13,295,947 | 12,075,000 | 13,295,947 | 13,295,947 | 13,295,947 | 13,295,947 |
| Accounting Exp | MMK | 6,647,974 | 6,037,500 | 6,647,974 | 6,647,974 | 6,647,974 | 6,037,500 | 6,647,974 | 6,647,974 | 6,647,974 | 6,647,974 |

Myanmar CP Livestock Co., Ltd
Business Unit: Farm Business
Project Narr Layer Village Fund Project_(NayPyitaw) (19,000 Birds/H x 1 Houses)

| Description | Unit | Year - 1 | Year - 2 | Year - 3 | Year - 4 | Year - 5 | Year - 6 | Year - 7 | Year - 8 | Year - 9 | Year - 10 to Year 20 |
|---|---|---|---|---|---|---|---|---|---|---|---|
| Cost of Good Sold | Kyats | 624,511,795 | 471,014,385 | 598,634,759 | 600,010,711 | 601,469,980 | 459,331,894 | 480,652,159 | 693,026,295 | 607,589,067 | 440,628,278 |
| Cost/Unit | Ks/Kg | 109 | 82 | 104 | 104 | 105 | 80 | 84 | 121 | 106 | 77 |
| Sale Volume | Egg | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 |
| Sale Volume_Post layer | Kg | 36,998 | - | 36,998 | 36,998 | 36,998 | - | 36,998 | 36,998 | 36,998 | 36,998 |
| Total Cost of Production | Kyats | 624,511,795 | 471,014,385 | 598,634,759 | 600,010,711 | 601,469,980 | 459,331,894 | 480,652,159 | 693,026,295 | 607,589,067 | 440,628,278 |
| Transfer to Other Business | Amount | - | - | - | - | - | - | - | - | - | - |
| Transfer Price | Ks/Kg | | | | | | | | | | |
| Transfer to Other Business | Birds | | | | | | | | | | |
| Transfer Weight Out | Kg | - | - | - | - | - | - | - | - | - | - |

| Description | Unit | Year - 1 | Year - 2 | Year - 3 | Year - 4 | Year - 5 | Year - 6 | Year - 7 | Year - 8 | Year - 9 | Year - 10 to Year 20 |
|---|---|---|---|---|---|---|---|---|---|---|---|
| Estimated Production | Birds | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 |
| Weight Out | Kg | 36,998 | - | 36,998 | 36,998 | 36,998 | - | 36,998 | 36,998 | 36,998 | 36,998 |
| Total Cost of Production ('000) | Kyats | 624,511,795 | 471,014,385 | 598,634,759 | 600,010,711 | 601,469,980 | 459,331,894 | 480,652,159 | 693,026,295 | 607,589,067 | 440,628,278 |
| Production Cost/Units | Ks/Kg | 109 | 82 | 104 | 104 | 105 | 80 | 84 | 121 | 106 | 77 |
| DOC | | 26 | - | 25 | 25 | 25 | - | - | 40 | 25 | - |
| Feed | | 61 | 61 | 61 | 61 | 61 | 61 | 61 | 61 | 61 | 61 |
| Medicine | | 2 | 2 | 2 | 2 | 2 | 2 | 2 | 2 | 2 | 2 |
| Production Expenses | | 20 | 19 | 16 | 17 | 17 | 17 | 21 | 18 | 18 | 14 |

| Description | Unit | Year - 1 | Year - 2 | Year - 3 | Year - 4 | Year - 5 | Year - 6 | Year - 7 | Year - 8 | Year - 9 | Year - 10 to Year 20 |
|---|---|---|---|---|---|---|---|---|---|---|---|
| Weight loss % on Sale | % | | | | | | | | | | |
| Sale Volume | Kg | | | | | | | | | | |
| Weight loss % on Transfer | % | | | | | | | | | | |
| Transfer to other business | Kg | | | | | | | | | | |
| Sale or Transfer after Weight Loss | kg | 36,998 | - | 36,998 | 36,998 | 36,998 | - | 36,998 | 36,998 | 36,998 | 36,998 |
| Selling and Admin Cost Assumption | Ks/Kg | 6 | 6 | 6 | 6 | 6 | 6 | 6 | 6 | 6 | 6 |
| Freight in | Ks/Kg | | | | | | | | | | |
| | Ks/Kg | | | | | | | | | | |
| | Ks/Kg | | | | | | | | | | |

Myanmar CP Livestock Co., Ltd
Business Unit: **Integration Business (Southern)**
Project Name: **Layer Village Fund Project_(NayPyitaw) (19,000 Birds/H x 1 Houses)**

| | 3 Production Assumption | | Year - 1 | Year - 2 | Year - 3 | Year - 4 | Year - 5 | Year - 6 | Year - 7 | Year - 8 | Year - 9 | Year - 10 to Year 20 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | Production Capicity (Maximun Production) | Egg /Year | | | | | | | | | | |
| 2 | Cost per Pullet | Ks/Head | 5,500 | 5,500 | 5,500 | 5,500 | 5,500 | 5,500 | 5,500 | 5,500 | 5,500 | 5,500 |
| 3 | Estimated Pullet_Chicken in Plan | Birds /Year | 19,000 | | 19,000 | 19,000 | 19,000 | 19,000 | | 19,000 | 19,000 | 19,000 |
| 4 | Estimated Actual Production | Egg /Year | | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 | 5,750,000 |
| 5 | Estimated Weight Out | Kg/Year | - | 345,000 | 345,000 | 345,000 | 345,000 | 345,000 | 345,000 | 345,000 | 345,000 | 345,000 |
| 6 | Std_Age of Production | Weeks | | 60 | 60 | 60 | 60 | 60 | 60 | 60 | 60 | 60 |
| 7 | Actual Age of Prodn in Year | Weeks | | 48 | 48 | 48 | 48 | 48 | 48 | 48 | 48 | 48 |
| 8 | Hen Days | | | 90% | 90% | 90% | 90% | 90% | 90% | 90% | 90% | 90% |
| 9 | Estimated mortality(Depletion) | % | | 5.14% | 4.78% | 4.34% | 4.52% | 5.14% | 5.26% | 4.34% | 4.44% | 4.82% |
| 10 | Crack on Farm | % | | 2% | 2% | 2% | 2% | 2% | 2% | 2% | 2% | 2% |
| 11 | Estimated Actual FCR | Kg | | | | | | | | | | |
| 12 | Est: Feed usage | Kg/Year | | | | | | | | | | |
| | 7.1 C.P. 324 | Kg/Year | | 811,597 | 811,597 | 811,597 | 811,597 | 811,597 | 811,597 | 811,597 | 811,597 | 811,597 |
| | 7.2 C.P. 324(Growing Period) | Kg/Year | 126,000 | - | 126,000 | 126,000 | 126,000 | 126,000 | 126,000 | 126,000 | 126,000 | 126,000 |
| | 7.3 C.P. | Kg/Year | | | | | | | | | | |
| 9 | Est: Feed Price(22-11-15) | Ks/Kg | | | | | | | | | | |
| | 8.1 C.P. 324 | Ks/Kg | 435 | 435 | 435 | 435 | 435 | 435 | 435 | 435 | 435 | 435 |
| | 8.2 C.P. 324(Growing Period) | Ks/Kg | | | - | - | - | - | - | - | - | - |
| | 8.3 C.P. | Ks/Kg | | | - | - | - | - | - | - | - | - |
| 10 | Est: Freight Charges | Ks/Kg | 15 | 15 | 15 | 15 | 15 | 15 | 15 | 15 | 15 | 15 |
| | 10.1 Pullet Transport Charges | Ks/Birds | 500 | 500 | 500 | 500 | 500 | 500 | 500 | 500 | 500 | 500 |
| 11 | Medicine | Amount(Ks) | - | 8,625,000 | 8,625,000 | 8,625,000 | 8,625,000 | 8,625,000 | 8,625,000 | 8,625,000 | 8,625,000 | 8,625,000 |
| 12 | Utilities Expense | Amount(Ks) | | 7,462,000 | 5,854,800 | 5,971,896 | 6,091,334 | 6,213,161 | 6,337,424 | 6,464,172 | 6,593,456 | 6,725,325 |
| 13 | Repair | Amount(Ks) | | 3,000,000 | 2,640,000 | 2,904,000 | 3,194,400 | 3,513,840 | 3,865,224 | 4,058,485 | 4,261,409 | 4,474,480 |
| 14 | Others Supply | Amount(Ks) | | 8,780,400 | 7,164,806 | 7,308,103 | 7,454,265 | 7,603,350 | 7,755,417 | 7,910,525 | 8,068,736 | 8,230,110 |

